Form (3)

P000050

# THE REPUBLIC OF THE UNION OF MYANMAR

Myanmar Investment Commission

## PERMIT

Permit No. 138/2019 Dated 6 February 2019

This Permit is issued by the Myanmar Investment Commission according to the section 25 (c) of the Myanmar Investment Law:-

(1) Name of Investor MR. SHU, ZHONGBO

(2) Citizenship CHINESE

(3) Residence Address HOUSE NO. 502, BUILDING NO. 19, 2727 QILIANSHAN S RD, PUTUO QU, SHANGHAI SHI, PEOPLE'S REPUBLIC OF CHINA, 200333

(4) Name and Address of Principle Organization -

(5) Place of Incorporation -

(6) Type of Business MANUFACTURING AND SALES OF PAPER PULP

(7) Place(s) at which investment is permitted PLOT NO. 253,254,255, MYAUNG DAGAR STEEL INDUSTRIAL ZONE, HMAWBI TOWNSHIP, YANGON REGION

(8) Amount of Foreign Capital US$ 4.035 MILLION

(9) Period for Foreign Capital to be brought in WITHIN TWO YEARS FROM THE DATE OF ISSUANCE OF MIC PERMIT

(10) Total amount of capital (Kyat) EQUIVALENT IN KYAT OF US$ 6.725 MILLION (INCLUDING US$ 4.035 MILLION)

(11) Construction Period 2 YEARS

(12) Validity of investment permit 50 YEARS

(13) Form of investment JOINT VENTURE

(14) Name of Company incorporated in Myanmar ASIA GLORY INTERNATIONAL COMPANY LIMITED

Thaung Tun

(Thaung Tun)

Chariman

Myanmar Investment Commission

ပုံစံ (၃)

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
# ခွင့်ပြုမိန့်

ခွင့်ပြုမိန့်အမှတ် ၁၃၈/၂၀၁၉ ၂၀၁၉ ခုနှစ် ၊ ဖေဖော်ဝါရီလ ၆ ရက်

မြန်မာနိုင်ငံနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေ ဥပဒေပုဒ်မ ၂၅ (ဂ) အရ ဤခွင့်ပြုမိန့်ကို ထုတ်ပေးလိုက်သည် -

(၁) ရင်းနှီးမြှုပ်နှံသူ/ ကမကထပြုသူအမည် MR. SHU, ZHONGBO

(၂) နိုင်ငံသား CHINESE

(၃) နေရပ်လိပ်စာ HOUSE NO. 502, BUILDING NO. 19, 2727 QILIANSHAN S RD, PUTUO QU, SHANGHAI SHI, PEOPLE'S REPUBLIC OF CHINA, 200333

(၄) ပင်မအဖွဲ့အစည်းအမည်နှင့်လိပ်စာ -

(၅) ဖွဲ့စည်းရာအရပ် -

(၆) ရင်းနှီးမြှုပ်နှံသည့်လုပ်ငန်းအမျိုးအစား စက္ကူပျော့ဖတ်အမျိုးမျိုးထုတ်လုပ်ရောင်းချခြင်း လုပ်ငန်း

(၇) ရင်းနှီးမြှုပ်နှံသည့်အရပ်ဒေသ(များ) မြေကွက်အမှတ်- ၂၅၃၊ ၂၅၄၊ ၂၅၅၊ မြောင်းတကာ သံမဏိစက်မှုဇုန်၊ မှော်ဘီမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး

(၈) နိုင်ငံခြားမတည်ငွေရင်းပမာဏ အမေရိကန်ဒေါ်လာ ၄.၀၃၅ သန်း

(၉) နိုင်ငံခြားမတည်ငွေရင်းယူဆောင်လာရမည့်ကာလ ခွင့်ပြုမိန့်ရရှိပြီးနေ့မှ ၂ နှစ် အတွင်း

(၁၀) စုစုပေါင်း မတည်ငွေရင်းပမာဏ(ကျပ်) အမေရိကန်ဒေါ်လာ ၆.၇၂၅ သန်းနှင့် ညီမျှသော မြန်မာကျပ်ငွေ (အမေရိကန်ဒေါ်လာ ၄.၀၃၅ သန်းအပါအဝင်)

(၁၁) တည်ဆောက်မှုကာလ ၂ နှစ်

(၁၂) ရင်းနှီးမြှုပ်နှံမှုခွင့်ပြုသည့်သက်တမ်း ၅၀ နှစ်

(၁၃) ရင်းနှီးမြှုပ်နှံမှုပုံစံ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု

(၁၄) မြန်မာနိုင်ငံတွင်ဖွဲ့စည်းမည့်ကုမ္ပဏီအမည် ASIA GLORY INTERNATIONAL COMPANY LIMITED

Thaung Tun

(သောင်းထွန်း)

ဥက္ကဋ္ဌ

Republic of the Union of Myanmar ★ Myanmar Investment Commission ★
Sr. No. 025
Date 6.2.2019

THE REPUBLIC OF THE UNION OF MYANMAR
**MYANMAR INVESTMENT COMMISSION**
No.1, Thitsar Road, Yankin Township, Yangon

Tel: 01- 658128
Fax: 01-658141

Our ref :MIC-3/P-031/2019( 025 )
Dated : 6 February 2019

Subject: **Decision of the Myanmar Investment Commission on the Permit for manufacturing and sales of paper pulp under the name of Asia Glory International Company Limited**

Reference: Asia Glory International Company Limited's letter dated 27th November 2018

1. The Myanmar Investment Commission, at its meeting (2/2019) held on 4th February 2019, approved the permit for investment in manufacturing and sales of paper pulp under the name of Asia Glory International Company Limited submitted as a joint venture between Mr. Shu, Zhongbo (43 %), Mr. Chen, Yaxiang (17%) from People's Republic of China, U Kyaw Lar (20 %) and U Kyauk Gyi Kyon @ U Kyaw Myint (20 %) from the Republic of the Union of Myanmar in accordance with the Myanmar Investment Law and Rules.

2. The terms and conditions of the Permit are stated in the following paragraphs:

(a) The term of the Permitted project shall be fifty (50) years commencing from the date of the issuance of the permit by the Myanmar Investment Commission.

(b) The term of the Lease Agreement for land shall be initial twenty (20) years commencing from the date of signing of the Land Lease Agreement between U Tin Win, U Maung Myint (Lessors) and Asia Glory International Company Limited (Lessee) and extendable ten (10) years by mutual agreement between the Lessor and the Lessee subject to the approval of the Myanmar Investment Commission.

(c) The annual rent for land shall be Kyat 40.00 million (Kyat forty million only) for the total area measuring 18,089.464 square metres (4.47 acres) out of 6.474 acres.

(d) Asia Glory International Company Limited, may submit the application form for the right to use land under Chapter XII and

exemptions and reliefs under sections 75, 77 and 78 of the Chapter XVIII of Myanmar Investment Law.

(e) Asia Glory International Company Limited shall use its best efforts to achieve a timely realization of the work stated in the permit application.

(f) Asia Glory International Company Limited shall obey and respect the responsibilities of investors under section 65 of Myanmar Investment Law and Chapter XX of Myanmar Investment Rules.

(g) Asia Glory International Company Limited shall carry out prevention, mitigation and monitoring of significant environmental impacts according to the type of investment activities in accordance with the relevant laws, rules, regulations and procedures.

(h) Asia Glory International Company Limited shall have to abide by the Fire Services Department's rules, regulations, directives and instructions. Moreover, fire prevention measures shall have to be undertaken such as water storage tank, fire hooks, sand bags, fire extinguishers and provide training to use the fire fighting equipment and also to appoint fire safety officer.

(i) Asia Glory International Company Limited shall submit to the Commission of any transfer of shares or transfer of the business to any person during the investment period in accordance with section 72 of Myanmar Investment Law and rule 191 of Myanmar Investment Rules.

(j) If Asia Glory International Company Limited which has benefitted from the permit or exemptions and reliefs shall submit an annual report in the prescribed form to the Commission within three (3) months of the end of the financial year in accordance with rule 196 of Myanmar Investment Rules and shall disclose a summary of report on its website or the Commission's website.

(k) Asia Glory International Company Limited must, during the operation period under the permit of the Commission, submit its operating report quarterly in the prescribed form in accordance with rule 197 of Myanmar Investment Rules.

3. Asia Glory International Company Limited shall carry out in accordance with the stipulations of the relevant Union Ministries, governmental department and governmental organizations to obtain license, permit or registration as per section 65(d) of the Myanmar Investment Law.

4. Asia Glory International Company Limited shall submit five (5) copies of all approvals, licences, permits and similar authorizations relevant to the initial implementation of the investment, Shareholders' Agreement and Land Lease Agreement to the Commission.

(Thaung Tun)
Chairman

**Asia Glory International Company Limited**

cc:
1. Ministry of Home Affairs
2. Ministry of Office of the Union Government
3. Ministry of Natural Resources and Environmental Conservation
4. Ministry of Labour, Immigration and Population
5. Ministry of Industry
6. Ministry of Commerce
7. Ministry of Planning and Finance
8. Ministry of Investment and Foreign Economic Relations
9. Yangon Region Investment Committee
10. Office of the Yangon Region Government
11. Director General, Department of Environmental Conservation
12. Director General, Directorate of Labour
13. Director General, Department of Immigration
14. Director General, Directorate of Industrial Supervision and Inspection
15. Managing Director, No. 3 Heavy Industry Enterprise
16. Director General, Department of Trade
17. Director General, National Archives Department
18. Director General, Customs Department
19. Director General, Internal Revenue Department
20. Director General, Directorate of Investment and Company Administration
21. Yangon Region Office, Directorate of Investment and Company Administration

ရက်စွဲ။ ၂၄-၁-၂၀၁၉

Asia Glory International Company Limited နှင့် စပ်လျဉ်း၍
လုပ်ငန်းဆောင်ရွက်မှုမှတ်တမ်း

| စဉ် | ဆောင်ရွက်သည့်အကြောင်းအရာ | ဆောင်ရွက်သည့် ရက်စွဲ | အကြောင်းပြန်ကြားသည့် ရက်စွဲ/ ကုမ္ပဏီမှ တင်ပြသည့်ရက်စွဲ | မှတ်ချက် |
|---|---|---|---|---|
| ၁ | အဆိုပြုချက်တင်ပြလာခြင်း | ၂၇-၁၁-၂၀၁၈ | | |
| ၂ | အဆိုပြုချက်စိစစ်ရေးအဖွဲ့ ၏ (၃၈/၂၀၁၈ ) ကြိမ်မြောက် အစည်းအဝေးသို့တင်ပြခြင်း | ၃-၁၂-၂၀၁၈ | | |
| ၃ | လုပ်ငန်းလိုအပ်ချက်အရ သယံဇာတနှင့် သဘာဝပတ်ဝန်း ကျင်ထိန်းသိမ်းရေး ဝန်ကြီးဌာနသို့ သဘောထား တောင်းခံခြင်း | ၁၄-၁၂-၂၀၁၈ | ၇-၁-၂၀၁၉ | |
| | စက်မှုဝန်ကြီးဌာနသို့ အချက်အလက်များ တောင်းခံခြင်း | ၁၄-၁၂-၂၀၁၈ | ၉-၁-၂၀၁၉ | |
| ၄ | ကုမ္ပဏီမှ လိုအပ်ချက်များ ပြန်လည်ပေးပို့ခြင်း | ၂၃-၁-၂၀၁၉ | | |
| ၅ | ကုမ္ပဏီသို့ လက်ခံကြောင်း ပြန်ကြားခြင်း | ၁၈-၁-၂၀၁၉ | | |
| ၆ | အဆိုပြုချက်အား ကော်မရှင် အစည်းအဝေးသို့ တင်ပြခြင်း | ၁-၂-၂၀၁၉ | | |
| | **စုစုပေါင်းကြာမြင့်ရက်** | (၅၇) ရက် | | |

ရက်စွဲ- ၂၄-၁-၂၀၁၉

# အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ ဆွေးနွေးချက်၊ ဆုံးဖြတ်ချက်အပေါ် ဆောင်ရွက်ပြီးစီးမှု

ကုမ္ပဏီအမည် - Asia Glory International Company Limited

လုပ်ငန်းအမျိုးအစား - စက္ကူပျော့ဖတ်အမျိုးမျိုးထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း

PATအကြိမ်/နေ့စွဲ - ၃၈/၂၀၁၈ (၃-၁၂-၂၀၁၈)

| စဉ် | အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ ဆုံးဖြတ်ချက်အပေါ် ပြင်ဆင်ရန်အချက်များ | ဆောင်ရွက်ပြီးစီးမှု ပြီး (✓) မပြီး (×) | မှတ်ချက် |
|---|---|---|---|
| ၁ | ကုန်ချောထုတ်လုပ်မှုအရေအတွက်၊ ကုန်ကြမ်းလိုအပ်ချက်၊ ရေလိုအပ်ချက်၊ လျှပ်စစ်လိုအပ်ချက်များအား ပြည့်စုံစွာ တွက်ချက်တင်ပြရန်။ | ✓ | |
| ၂ | ဓာတုပစ္စည်းသုံးစွဲမည့်အစီအစဉ်၊ ရေဆိုးစွန့်ပစ်မည့်အစီအစဉ်၊ ထုတ်လုပ်မည့် ကုန်ချောအမျိုးအစား၊ ထုတ်လုပ်မှုလုပ်ငန်းစဉ်၊ အရည်အသွေးစမ်းသပ်မည့် အစီအစဉ်နှင့် နည်းပညာအသုံးပြုမှု အစီအစဉ်များ ပြည့်စုံစွာတင်ပြရန်။ | ✓ | |
| ၃ | ကုန်ကြမ်းထားရှိမည့်နေရာ၊ စွန့်ပစ်ပစ္စည်းထားရှိမည့်နေရာ၊ ရေဆိုးစွန့်ပစ်မည့် နေရာများပါဝင်သည့် Factory Layout Plan အသေးစိတ်တင်ပြရန်။ | ✓ | |
| ၄ | စက်ပစ္စည်း၊ လုပ်ငန်းသုံးပစ္စည်းနှင့်မော်တော်ယာဉ်စာရင်းအား ပြည်တွင်း/ ပြည်ပ ခွဲခြားဖော်ပြရန်နှင့် အသုံးပြုမည့်စက်ပစ္စည်း တစ်ခုချင်း၏အမျိုးအစားအလိုက် ပါဝင်သောအစိတ်အပိုင်းများ အားအသေးစိတ်ဖော်ပြရန်။ | ✓ | |
| ၅ | မြေငှားစာချုပ်(မူကြမ်း)နှင့် ဖက်စပ်စာချုပ် (မူကြမ်း) တင်ပြရန်။ | ✓ | |

ကန့်သတ်

အကြောင်းအရာ။ **ဖက်စပ်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် Asia Glory International Company Limited တည်ထောင်ကာ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ စက္ကူပျော့ဖတ် အမျိုးမျိုးထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြခြင်း ကိစ္စ**

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည်/ | - Asia Glory International Company Limited |
| | ရင်းနှီးမြှုပ်နှံသူ | - Mr. Shu, Zhongbo (Chinese) |
| | ရင်းနှီးမြှုပ်နှံမှုပုံသဏ္ဍာန် | - ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု |
| | | - Mr. Shu Zhongbo (Chinese) ၄၃ % |
| | | - Mr. Chen Yaxiang (Chinese) ၁၇ % |
| | | - ဦးကျော်လာ (မြန်မာ) ၂၀ % |
| | | - ဦးကျောက်ကြီးကြို(ခ) ဦးကျော်မြင့် (မြန်မာ) ၂၀ % |
| | လုပ်ငန်းအမျိုးအစား | - စက္ကူပျော့ဖတ်အမျိုးမျိုးထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း |
| ၂။ | တည်နေရာ | - မြေကွက်အမှတ်- ၂၅၃၊ ၂၅၄၊ ၂၅၅၊ မြောင်းတကာသံမဏိစက်မှုဇုန်၊ မှော်ဘီမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး |
| ၃။ | မြေပိုင်ရှင် | - ဦးတင်ဝင်း၊ ဦးမောင်မြင့် |
| | မြေနှင့်အဆောက်အဦ အကျယ်အဝန်း | - မြေဧရိယာ ၆.၄၇၄ ဧကအနက်မှ ၄.၄၇၀ ဧက (၁၈,၀၈၉.၄၆၄ စတုရန်းမီတာ) |
| | နှစ်စဉ်မြေ/အဆောက်အဦ ငှားရမ်းခ | - ကျပ် ၄၀,၀၀၀,၀၀၀ |
| | မြေ/အဆောက်အအုံ ငှားရမ်း/ အသုံးပြုခွင့်သက်တမ်း | - ၂၀ နှစ် |
| ၄။ | ရင်းနှီးမြှုပ်နှံမှုပြုလုပ်လိုသည့် သက်တမ်း | - ၅၀ နှစ် |
| ၅။ | တည်ဆောက်မှုကာလ | - ၂ နှစ် |
| ၆။ | စုစုပေါင်းမတည်ငွေရင်း | - အမေရိကန်ဒေါ်လာ ၆.၇၂၅ သန်း |
| | ထည့်ဝင်သည့်အမျိုးအစား | **US$ (သန်း)** |

| | **နိုင်ငံခြား** | **မြန်မာ** | **စုစုပေါင်း** |
|---|---|---|---|
| ငွေသား | - | ၀.၈၀၃ | ၀.၈၀၃ |
| စက်ပစ္စည်း(ပြည်ပ) | ၄.၀၃၅ | ၀.၂၄၄ | ၄.၂၇၉ |
| မြေ/အဆောက်အဦငှားရမ်းခ | - | ၀.၀၂၇ | ၀.၀၂၇ |

ကန့်သတ်

| | | | | |
|---|---|---|---|---|
| | အဆောက်အဦကုန်ကျစရိတ် | - | ၀.၅၀၀ | ၀.၅၀၀ |
| | ဆောက်လုပ်ရေးလုပ်ငန်းသုံး | - | ၀.၆၁၆ | ၀.၆၁၆ |
| | ပစ္စည်း (ပြည်တွင်း) | | | |
| | ပရိဘောဂ (ပြည်တွင်း) | - | ၀.၅၀၀ | ၀.၅၀၀ |
| | **စုစုပေါင်း** | **၄.၀၃၅** | **၂.၆၉၀** | **၆.၇၂၅** |
| ၇။ | ရောင်းချမည့်နည်းစနစ် | - ပြည်တွင်းရောင်း ၅၀ % ၊ ပြည်ပပို့ ၅၀ % | | |
| ၈။ | ထုတ်လုပ်မှုနှင့် ရောင်းဈေးနှုန်း | **ထုတ်လုပ်မှု (Ton)** | | **ရောင်းဈေးနှုန်း (US$/ Ton)** |
| | - High Strength Corrugated Paper **(ပြည်တွင်း ၅၀%)** | ၃၂,၅၀၀ | | ၃၃၂.၀၀ |
| | - High Strength Corrugated Paper **(ပြည်ပ ၅၀%)** | ၃၂,၅၀၀ | | ၃၅၅.၀၀ |
| ၉။ | အခြားတင်ပြချက် | | **ပြည်တွင်း** | **ပြည်ပ** |
| | | **ဝန်ထမ်းဦးရေ** | ၆၃ ဦး | ၁၅ ဦး |
| | | **အမြင့်ဆုံးလစာ** | ကျပ် ၁,၅၀၀,၀၀၀ | ကျပ် ၂,၀၀၀,၀၀၀ |
| | | **အနိမ့်ဆုံးလစာ** | ကျပ် ၁၅၀,၀၀၀ | ကျပ် ၈၅၀,၀၀၀ |
| | | - ၁ US$ = ၁,၅၀၀ ကျပ် နှုန်းဖြင့် တွက်ချက်ထားပါသည်။<br>- Asia Glory International Co., Ltd. ၏ ငွေကြေးအထောက်အထားအဖြစ် Kanbawza Bank (Hlaingtharyar Branch)တွင် ၁၄-၁၁-၂၀၁၈ ရက်စွဲဖြင့် ကျပ် ၄၄၅,၆၃၈,၆၂၀ ရှိကြောင်း တင်ပြထားပါသည်။<br>- **ကုန်ကြမ်းပစ္စည်းဖြစ်သည့်** Recycle Paper (OCC Waste Paper) **တစ်နှစ်လိုအပ်သည့် တန်ချိန် ၈၄,၀၀၀ အား အမေရိကန် နိုင်ငံ၊ ဥရောပနှင့် ဂျပန်နိုင်ငံတို့မှ တင်သွင်း၍ စက္ကူပျော့ဖတ်များ ထုတ်လုပ်သွားမည်ဖြစ်ပြီး ထွက်ရှိလာသည့်** စက္ကူပျော့ဖတ်များကို ပြည်ပသို့ ၅၀% တရုတ်နိုင်ငံအပါအဝင် | | |

| | | |
|---|---|---|
| ၁၀။ | စိစစ်တင်ပြချက် | အခြားနိုင်ငံများသို့ တင်ပို့မည်ဖြစ်ပြီး ပြည်တွင်း၌ ၅၀ % ရောင်းချမည်ဖြစ်ကြောင်း တင်ပြထားပါသည်။<br>- **ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း (Environmental Impact Assessment – EIA) ရေးဆွဲဆောင်ရွက်သွားမည်ဖြစ်ကြောင်းနှင့် Waste Water Treatment အား Anaerobic Treatment Process ဖြင့် ဆောင်ရွက်မည်ဖြစ်ပါသည်။**<br>- စက်ပစ္စည်းများကို တရုတ်ပြည်သူ့သမ္မတနိုင်ငံမှ တင်သွင်းမည် ဖြစ်ပါသည်။<br>- အဆိုပြုလုပ်ငန်းသည် ရင်းနှီးမြှုပ်နှံမှု ဦးစားပေး မြှင့်တင်မည့် ကဏ္ဍတွင် ပါဝင်ပြီး ISIC 1701 တွင် အကျုံးဝင်ပါသည်။<br>- အဆိုပြုလုပ်ငန်းသည် အမိန့်ကြော်ငြာစာအမှတ် ၁၅/၂၀၁၇ အရ သယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန၏ အတည်ပြုချက်ရယူဆောင်ရွက်ရမည့် လုပ်ငန်းစာရင်းတွင် ပါဝင် ပါသည်။ |

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

စာအမှတ်၊မရက- ၃/ခ-ဝ၃၁/၂ဝ၁၉( ၀၂၃ )

ရက်စွဲ ၊ ၂ဝ၁၉ ခုနှစ် ဇန်နဝါရီလ ၂၇ ရက်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့**

**တင်ပြသည့် အမှာစာ**

အကြောင်းအရာ။ **ဖက်စပ်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် Asia Glory International Company Limited တည်ထောင်ကာ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ စက္ကူပျော့ဖတ်အမျိုးမျိုးထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြခြင်းကိစ္စ**

၁။ တရုတ်ပြည်သူ့သမ္မတနိုင်ငံရှိ Mr. Shu, Zhongbo မှ ၄၃ % ၊ Mr. Chen, Yaxing မှ ၁၇ % နှင့် မြန်မာနိုင်ငံရှိ ဦးကျော်လာ မှ ၂ဝ%၊ ဦးကျောက်ကြီးကြုံ(ခ) ဦးကျော်မြင့် မှ ၂ဝ % ထည့်ဝင်၍ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Asia Glory International Company Limited တည်ထောင်ကာ မြေကွက်အမှတ်- ၂၅၃၊ ၂၅၄၊ ၂၅၅၊ မြောင်းတကာသံမဏိစက်မှုဇုန်၊ မှော်ဘီမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးရှိ မြေဧရိယာ ဖ.၄၇၄ ဧကအနက်မှ ၄.၄၇ဝ ဧက (၁၈,ဝ၈၉.၄၆၄ စတုရန်းမီတာ) တွင် စက္ကူပျော့ဖတ်အမျိုးမျိုးထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းအား ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုချက်တင်ပြလာပါသည်။

၂။ အဆိုပြုချက်နှင့်အတူ မြေပိုင်ရှင် ဦးတင်ဝင်း၊ ဦးမောင်မြင့်နှင့် Asia Glory International Company Limited တို့အကြားချုပ်ဆိုထားသည့် မြေနှင့် အဆောက်အဦ ငှားရမ်းသည့် သဘောတူစာချုပ် (မူကြမ်း)၊ ဖက်စပ်စာချုပ် (မူကြမ်း) ၊ မြေဆိုင်ရာ အထောက်အထားများ၊ ထုတ်လုပ်မည့်ပစ္စည်းနမူနာ ဓာတ်ပုံများအား ပူးတွဲတင်ပြထားပါသည်။

၃။ မြေငှားသက်တမ်းမှာ ၂ဝ နှစ် ဖြစ်ပြီး စုစုပေါင်းမြေဧရိယာမှာ ဖ.၄၇၄ ဧကအနက်မှ ၄.၄၇ဝ ဧက (၁၈,ဝ၈၉.၄၆၄ စတုရန်းမီတာ) ဖြစ်ပါသည်။ နှစ်စဉ်မြေနှင့် အဆောက်အဦငှားရမ်းခမှာ ကျပ် ၄ဝ,ဝဝဝ,ဝဝဝ ဖြစ်ပါသည်။ လုပ်ငန်းစီမံကိန်းကာလမှာ ၅ဝ နှစ်ဖြစ်ပြီး တည်ဆောက်ရေးကာလမှာ ၂ နှစ် ကြာမြင့်မည်ဖြစ်ကြောင်း တင်ပြထားပါသည်။

၄။ လုပ်ငန်း၏ စုစုပေါင်း မတည်ငွေရင်းပမာဏမှာ အမေရိကန်ဒေါ်လာ ဖ.၇၂၅ သန်း ဖြစ်ပါသည်။ မတည်ငွေရင်း ထည့်ဝင်မှုများမှာ တစ်ဖက်ပါအတိုင်းဖြစ်ပါသည်-

US$ (သန်း)

| | နိုင်ငံခြား | မြန်မာ | စုစုပေါင်း |
|---|---|---|---|
| ငွေသား | - | ၀.၈၀၃ | ၀.၈၀၃ |
| စက်ပစ္စည်း(ပြည်ပ) | ၄.၀၃၅ | ၀.၂၄၄ | ၄.၂၇၉ |
| မြေ/အဆောက်အဦငှားရမ်းခ | - | ၀.၀၂၇ | ၀.၀၂၇ |
| အဆောက်အဦကုန်ကျစရိတ် | - | ၀.၅၀၀ | ၀.၅၀၀ |
| ဆောက်လုပ်ရေးလုပ်ငန်းသုံး ပစ္စည်း (ပြည်တွင်း) | - | ၀.၆၀၆ | ၀.၆၀၆ |
| ပရိဘောဂ (ပြည်တွင်း) | - | ၀.၅၀၀ | ၀.၅၀၀ |
| **စုစုပေါင်း** | **၄.၀၃၅** | **၂.၆၉၀** | **၆.၇၂၅** |

၅။ လုပ်ငန်းဆောင်ရွက်ရန်အတွက် ပထမနှစ်တွင် ပြည်တွင်းမှ ဝန်ထမ်း ၆၃ ဦးနှင့် ပြည်ပ ဝန်ထမ်း ၁၅ ဦး ခန့်ထားမည်ဖြစ်ပါသည်။ ပြည်တွင်းဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာမှာ ကျပ် ၁၅၀,၀၀၀ နှင့် အမြင့်ဆုံးလစာမှာ ကျပ် ၁,၅၀၀,၀၀၀ ဖြစ်ပါသည်။ ပြည်ပဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာမှာ ကျပ် ၈၅၀,၀၀၀ နှင့် အမြင့်ဆုံးလစာမှာ ကျပ် ၂,၀၀၀,၀၀၀ ဖြစ်ပါသည်။

၆။ လုပ်ငန်းမှထွက်ရှိသော စက္ကူပျော့ဖတ်များအား ပြည်ပသို့ ၅၀% တင်ပို့၍ ပြည်တွင်း၌ ၅၀% ရောင်းချမည်ဖြစ်ပါသည်။ ထုတ်လုပ်မှုအရေအတွက်နှင့် ရောင်းဈေးနှုန်းများမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

| **အမျိုးအစား** | **ထုတ်လုပ်မှု (Ton)** | **ရောင်းဈေးနှုန်း (US$/Ton)** |
|---|---|---|
| High Strength Corrugated Paper **(ပြည်တွင်း ၅၀%)** | ၃၂,၅၀၀ | ၃၃၂.၀၀ |
| High Strength Corrugated Paper **(ပြည်ပ ၅၀%)** | ၃၂,၅၀၀ | ၃၅၅.၀၀ |

၇။ လုပ်ငန်းနှင့်စပ်လျဉ်း၍ သက်ဆိုင်ရာဝန်ကြီးဌာနများမှ အောက်ပါအတိုင်း သဘောထား ပြန်ကြားခဲ့ပါသည်-

(က) **သယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာနမှ** ပတ်ဝန်းကျင် ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းအပိုဒ် ၆၂ နှင့် ၆၃ အရ ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း (EIA) အစီရင်ခံစာရေးဆွဲ ဆောင်ရွက်ရန် သဘောထား ပြန်ကြားထားပါသည်။

(ခ) **စက်မှုဝန်ကြီးဌာနမှ** လုပ်ငန်းဆောင်ရွက်ခြင်းနှင့် ရေဆိုးသန့်စင်ခြင်းအတွက် အသုံးပြုမည့် စက်ပစ္စည်းများသည် လုပ်ငန်းနှင့်သင့်လျော်မှုရှိပါကြောင်းနှင့် လိုအပ်ချက်များ ဖြည့်ဆည်းဆောင်ရွက်မည်ဆိုပါက ကန့်ကွက်ရန်မရှိပါကြောင်း သဘောထားပြန်ကြားထားပါသည်။ ကုမ္ပဏီမှ စက်မှုဝန်ကြီးဌာန၏ သဘောထား မှတ်ချက်နှင့်အညီ လိုအပ်သည်များကို ကော်မရှင်သို့ပြင်ဆင်တင်ပြပြီးဖြစ်ပါသည်။

၈။ ငွေကြေးအထောက်အထားအဖြစ် Asia Glory International Co., Ltd. သည် Kanbawza Bank (Hlaingtharyar Branch) တွင် ၁၄-၁၁-၂၀၁၈ ရက်စွဲဖြင့် ကျပ် ၄၄၅,၆၃၈,၆၂၀ ရှိကြောင်းတင်ပြထားပါသည်။

၉။ Waste Water Treatment အား Anaerobic Treatment Process ဖြင့် ဆောင်ရွက်မည်ဖြစ်ပြီး ပျော့ဖတ်ထုတ်လုပ်ခြင်းမှ ထွက်ရှိလာမည့် စွန့်ပစ်ရေများအား ရေဆိုးသန့်စင်သည့်စနစ်ဖြင့် သန့်စင်ပြီးပြန်လည်အသုံးပြုသွားမည်ဖြစ်ပါကြောင်း၊ စက်ရုံလည်ပတ်ရာတွင် အနံ့ဆိုးများမထွက်ရှိစေရန် လေသန့်စင်သည့်စနစ်ထည့်သွင်းတည်ဆောက်သွားမည်ဖြစ်သဖြင့် သဘာဝပတ်ဝန်းကျင်ကိုထိခိုက်စေသောအနံ့ဆိုးများနှင့် ရေဆိုးထုတ်လွှတ်ခြင်းများမရှိပါကြောင်း တင်ပြထားပါသည်။

**စိစစ်တင်ပြချက်**

၁၀။ အောက်ပါအတိုင်းစိစစ်တင်ပြအပ်ပါသည်-

(က) ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန၊ မူဝါဒနှင့်ဥပဒေရေးရာဌာနခွဲမှ ကော်မရှင်ခွင့်ပြုမိန့်နှင့် ဆုံးဖြတ်ချက်(မူကြမ်း)အား ဥပဒေနှင့်ညီညွတ်မှုရှိကြောင်း စိစစ်ပြီးဖြစ်ပါသည်။

(ခ) မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ အမိန့်ကြော်ငြာစာ အမှတ် ၁၅/၂၀၁၇ အရ သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန၏ အတည်ပြုချက်ဖြင့် ဆောင်ရွက်ရမည့် လုပ်ငန်းအမျိုးအစားဖြစ်ပါသည်။

(ဂ) ကုမ္ပဏီသည် **ပြည်ပမှ စွန့်ပစ်သန့်စင်ပြီးစက္ကူကုန်ကြမ်း Recycle Paper (OCC Waste Paper) အား အသုံးပြု၍ စက္ကူပျော့ဖတ်များထုတ်လုပ်သွားမည်ဖြစ်ပါသည်။** ပြည်ပမှတင်သွင်းမည့် စွန့်ပစ်သန့်စင်ပြီး စက္ကူကုန်ကြမ်းမှာ တစ်နှစ်လျှင် တန်ချိန် ၈၄,၀၀၀ ဖြစ်ပြီး အမေရိကန်၊ ဥရောပနှင့် ဂျပန်နိုင်ငံတို့မှ တင်သွင်းမည်ဖြစ်ပါသည်။

**ဆုံးဖြတ်ရန်အချက်**

၁၁။ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံ မှုဖြင့် Asia Glory International Company Limited မှ စက္ကူပျော့ဖတ်အမျိုးမျိုးထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေအရ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြလာခြင်းကိစ္စနှင့်စပ်လျဉ်း၍ ခွင့်ပြုမိန့် ထုတ်ပေးရန် သဘောတူ-မတူ။

ဥက္ကဋ္ဌ(ကိုယ်စား)
(အောင်နိုင်ဦး၊ အတွင်းရေးမှူး)

မိတ္တူကို
ရုံးလက်ခံ

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန
ပြည်ထောင်စုဝန်ကြီးရုံး

M-033
၇-၁-၂၀၁၉

စာအမှတ်(သစ်တော)၃(၂)/၁၆(ဃ)( ၀၂၆ /၂၀၁၉)
ရက်စွဲ ၂၀၁၉ ခုနှစ် ၊ ဇန်နဝါရီလ ၄ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စ**

ရည် ညွှန်း ချက် ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၄-၁၂-၂၀၁၈ ရက်စွဲပါစာအမှတ်၊ မရက-၃/ ခ- ၀၃၁/ ၂၀၁၈ (၂၀၂)

၁။ တရုတ်ပြည်သူ့သမ္မတနိုင်ငံရှိ Mr. Shu Zhong Bo မှ ၄၃% ၊ Mr. Chen Yaxing မှ ၁၇% နှင့် မြန်မာနိုင်ငံရှိ ဦးကျော်လာမှ ၂၀%၊ ဦးကျောက်ကြီးကြို (ခ) ဦးကျော်မြင့်မှ ၂၀% ထည့်ဝင်၍ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Asia Glory International Company Limited တည်ထောင်ကာ မြေကွက်အမှတ်- ၂၅၃၊ ၂၅၄၊ ၂၅၅ မြောင်းတကာသံမဏိစက်မှုဇုန်၊ မှော်ဘီမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးရှိ မြေဧရိယာ ၆.၄၇၄ ဧကအနက်မှ ၃.၇၀၀ ဧက (၁၄,၉၇၃.၃၈၂ စတုရန်းမီတာ) တွင် စက္ကူပျော့ဖတ်အမျိုးမျိုးထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုချက် တင်ပြလာခြင်းနှင့်ပတ်သက်၍ အဆိုပါလုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှု ရှိ-မရှိ၊ စွန့်ပစ်ပစ္စည်းများထိန်းသိမ်းထားရှိမည့်အစီအစဉ်နှင့် ဓာတုပစ္စည်းများထိန်းသိမ်းထားရှိမည့် အစီအစဉ်တို့သည် လုပ်ငန်းနှင့်သင့်လျော်မှု ရှိ- မရှိ၊ ပြည်ပမှ စွန့်ပစ်စက္ကူကုန်ကြမ်းပစ္စည်းများတင်သွင်းလာမှုသည် ပတ်ဝန်းကျင်ထိခိုက်မှု ရှိ- မရှိ၊ လုပ်ငန်းဆောင်ရွက်ရန် သင့်- မသင့်စသည့်အချက်များအပေါ် သဘောထားမှတ်ချက်ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့် ညှိနှိုင်းလာပါသည်။

၂။ အဆိုပါကိစ္စနှင့်ပတ်သက်၍ သယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာနအနေဖြင့် စိစစ်ရာတွင် စက်ရုံလုပ်ငန်းလည်ပတ်ထုတ်လုပ်မည့် ပမာဏသည် တစ်နှစ်လျှင် ပျော့ဖတ် တန်ချိန် (၈၀၀၀၀) တန်၊ တစ်ရက်လျှင် ပျော့ဖတ်တန်ချိန် (၂၁၉.၁၇၈) တန် ထုတ်လုပ်မည်ဖြစ်ပါသဖြင့် ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်း နောက်ဆက်တွဲ (က) အမှတ်စဉ်(၆၄) အရ ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း ဆောင်ရွက်ရမည်ဖြစ်ပြီး လုပ်ငန်းတည်ထောင်ခြင်း၊ လည်ပတ်စဉ်ကာလများတွင် တစ်ဖက်ဖော်ပြပါ ပတ်ဝန်းကျင်နှင့်လူမှုဆိုင်ရာများအပေါ် ထိခိုက်မှုများ ဖြစ်ပေါ်နိုင်ပါသည်-

(က) ပျော့ဖတ်နှင့် စက္ကူထုတ်လုပ်ခြင်းလုပ်ငန်းအတွက် တည်ဆောက်ခြင်း(Construction Phase) တွင် ဖြစ်ပေါ်နိုင်သော ပတ်ဝန်းကျင်နှင့်လူမှုရေးဆိုင်ရာ ထိခိုက်နိုင်မှုများမှာ စက်ယန္တရားများရွှေ့လျားခြင်းမှ ထွက်ရှိသောအမှုန်များ၊ ဖုန်မှုန့်များစသည့် လေထုညစ်ညမ်းမှုများနှင့် ဆူညံသံနှင့်တုန်ခါမှုများ၊ မြေဆီလွှာတိုက်စားခြင်းများ၊ စီးဆင်းရေနှင့်စွန့်ပစ်ရေများကြောင့် ရေထုညစ်ညမ်းခြင်းများ မြေအသုံးချမှုများကြောင့်၊ အပင်နှင့်ဇီဝမျိုးကွဲများအား ထိခိုက်ခြင်းများ၊ စွန့်ပစ်အစိုင်အခဲများ ထွက်ရှိခြင်းများ၊ လုပ်ငန်းခွင်ဘေးအန္တရာယ်ဆိုင်ရာ မတော်တဆထိခိုက်ဒဏ်ရာရခြင်းများစသည်တို့ဖြစ်ပေါ်စေနိုင်ပါသည်၊

(ခ) ပျော့ဖတ်နှင့် စက္ကူထုတ်လုပ်ခြင်းလုပ်ငန်းအတွက် International Finance Cor -poration-IFC Guideline အရ ပတ်ဝန်းကျင်အပေါ် အဓိကသက်ရောက်နိုင်မှုများမှာ စွန့်ပစ်ရေ (Wastewater)၊ လေထုထဲသို့ ထုတ်လွှတ်အခိုးအငွေ့များ (Air Emissions)၊ စွန့်ပစ်ပစ္စည်းများ (Wastes)၊ ဆူညံသံ (Noise) စသည်တို့ ဖြစ်ပေါ်စေနိုင်ပါသည်၊

(ဂ) စွန့်ပစ်ရေဆိုးတွင် ပါဝင်သော ဒြပ်ပစ္စည်းများအနေဖြင့် ပျော့ဖတ်ပြုလုပ်ခြင်း စစ်ထုတ်ခြင်းအဆင့်၊ ဆေးကြောခြင်းနှင့် အဖြူဆိုးခြင်းတို့မှ ထွက်ရှိသော Total Sus -pended Solids-TSS၊ Biochemical Oxygen Demand-BOD၊ Chemical Oxygen Demand-COD and Dissolved Organic Compounds များဖြစ်ပြီး အရောင်ဆိုးခြင်းလုပ်ငန်းစဉ်မှ ထွက်ရှိသော Chlorinated Dioxins and Furans များဖြစ်သည့် Poly Chlorinated Dibenzodioxins-PCDD and Poly Chlor -inated Dibenzofurans-PCDF များ ထွက်ရှိနိုင်သဖြင့် မြေထု၊ ရေထု၊ လေထုတို့အား ထိခိုက်ညစ်ညမ်းမှုများဖြစ်ပေါ်စေနိုင်သည်၊

(ဃ) လေထုထဲသို့ ထုတ်လွှတ်မှုများ (Air Emissions) နှင့်စပ်လျဉ်း၍ စက္ကူထုတ်လုပ်သည့် စက်ရုံများတွင် အဓိကအားဖြင့် ပြင်းထန်သည့် အနံ့ဆိုးရှိသည့် ဆာလဖာဒြပ်ပေါင်းပါဝင်သော Total Reduced Sulfur Compounds-TRS ဓါတ်ငွေ့များ၊ နိုက်ထရုပ်အောက်ဆိုဒ် NOx၊ ဆာလဖာဒိုင်အောက်ဆိုဒ် $SO_2$၊ အမှုန် PM များ အခွံများမီးရှို့ခြင်း၊ ဘွိုင်လာအသုံးပြုခြင်းနှင့် ထင်းလောင်စာအသုံးပြုခြင်းများမှ ထွက်ရှိသော Volatile Organic Compounds-VOCs များနှင့် မှန်လုံအိမ်ဓါတ်ငွေ့များကြောင့် လေထုညစ်ညမ်းမှုများ ဖြစ်ပေါ်စေနိုင်ပါသည်၊

(င) စွန့်ပစ်ပစ္စည်းများ Waste နှင့်ပတ်သက်၍ အော်ဂဲနစ်နှင့် အော်ဂဲနစ်မဟုတ်သော အနယ်အနှစ်အဖတ်များထွက်ရှိနိုင်ပြီး ဘေးအန္တရာယ်ရှိ ပစ္စည်းများဖြစ်သော စက်သုံးဆီ အကြွင်းအကျန်များ၊ စွန့်ပစ်လျှပ်စစ်ပစ္စည်း အပိုင်းအစများ၊ ဓါတုပစ္စည်း အကြွင်းအကျန်များကြောင့် မြေထု၊ ရေထု၊ လေထုညစ်ညမ်းမှုများ ဖြစ်ပေါ်စေနိုင်ပါသည်၊

(စ) ဆူညံသံအနေဖြင့် စက်ရုံတွင်အသုံးပြုသည့်ကုန်ကြမ်း၊ အပိုင်းအစများဖြတ်တောက်ခြင်း၊ စက်ပစ္စည်းကိရိယာများ၊ ဘွိုင်လာ၊ ယာဉ်၊ ယန္တရားများ၊ သယ်ယူပို့ဆောင်ရေး ယာဉ်များမှ ဆူညံသံများထွက်ရှိနိုင်သဖြင့် လုပ်ငန်းခွင်နှင့် စီမံကိန်း ပတ်ဝန်းကျင်ဆိုင်ရာ ဆူညံသံသက်ရောက်ထိခိုက်မှုများ ဖြစ်ပေါ်စေနိုင်ပါသည်၊

(ဆ) International Finance Corporation-IFC Guideline အရ လုပ်ငန်းခွင်ကျန်းမာရေးနှင့်ဘေးအန္တရာယ်ကင်းရှင်းရေး (Occupational Health and Safety) နှင့်ပတ်သက်၍ ဓါတုပစ္စည်းဘေးအန္တရာယ် (Chemical Hazards)၊ ရုပ်ပိုင်းဆိုင်ရာဘေးအန္တရာယ် (Physical Hazards)၊ သစ်အမှုန်အမွှားများ (Wood Dust)၊ (Wastewater Treatment) လုပ်ငန်းစဉ်များမှ ဇီဝနည်းဖြင့် ရေဆိုးသန့်စင်သည့်စနစ်အရ ထွက်ရှိသော ဇီဝပိုးမွှား ဘေးအန္တရာယ် (Biological Agents)၊ ဘွိုင်လာလုပ်ငန်းစဉ်စနစ် အသုံးပြုခြင်းမှ အပူဒဏ်သက်ရောက်မှုအန္တရာယ်များဖြစ်ပေါ်စေနိုင်ပါသည်၊

(ဇ) စက္ကူထုတ်လုပ်သည့်စက်ရုံများမှ ထုတ်လွှတ်အခိုးအငွေ့များအနေဖြင့် ဆာလဖာဒြပ်ပေါင်းနှင့် ကလိုရင်းဓါတ်ငွေ့များ၊ အောက်ဆီဂျင်နှင့် VOC များ၊ ထုတ်လွှတ်အရည်များတွင် Sodium Hydroxide ၊ ကောစတစ်၊ ဆာလဖြူရစ်အက်စစ်များ၊ တာပင်တိုင်၊ Sodium Hypochlorite ၊ Chlorine Dioxide၊ Hydrogen Peroxide ပါဝင်သည့်ပျော်ရည်များ၊ ပိုးသတ်ဆေးများ၊ စက္ကူထုတ်လုပ်ရာတွင် အသုံးပြုသည့် ဓါတ်ကူပစ္စည်းများ၊ ပျော်ရည်များ၊ ဆိုးဆေးများနှင့် မှင်များအစိုင်အခဲအနေဖြင့် ဆိုဒီယမ်ဒြပ်ပေါင်းများ၊ ထုံးဓါတ်ပါဝင်သော အစိုင်အခဲများ၊ ဆာလဖာဒြပ်ပေါင်းများ ၊ အပူခံစနစ်ကျောက်ဂွမ်း(Asbestos) များ စသည်တို့ကြောင့် ဓါတုပစ္စည်းဘေးအန္တရာယ် (Chemical Hazards) များ ဖြစ်ပေါ်စေနိုင်ပါသည်၊

(ဈ) စွန့်ပစ်ပစ္စည်းသစ်အပိုင်းအစများနှင့် စက္ကူများကြောင့် မီးသင့်လောင်ခြင်း ဘေးအန္တရာယ်များ ဖြစ်ပွားနိုင်ပါသည်။

၃။ ထိုအပြင် ပတ်ဝန်းကျင်မှုများအား ထိခိုက်မှုများလျှော့ချရာတွင် စွန့်ပစ်ရေဆိုးများသန့်စင်ရေးနှင့်စပ်လျဉ်း၍ Screening ၊ Grit Removal ၊ Removal of Oil နှင့် Sedimentation အဆင့်များပါဝင်သော Primary Treatment လုပ်ငန်းစဉ်များအပြင် Biological Filter, Aerated Lagoons, Activated Sludge နည်းစဉ်များ ပေါင်းစပ် ပါဝင်သည့် Anaerobic နှင့် Aerobic Treatment ကဲ့သို့သော စွန့်ပစ်ရေဆိုး ပြုပြင်သန့်စင်ခြင်း စက်ကိရိယာ အထောက်အပံ့ပစ္စည်းများ (Wastewater Treatment Facilities) ပြည့်စုံစွာပါဝင်သည့် ဇီဝနည်းဖြင့်ပြုပြင်သန့်စင်ခြင်းနည်းစဉ်များအပါအဝင် လေထုထဲသို့ ထုတ်လွှတ်အခိုးအငွေ့များ (Air Emiss -ions) ၊ စွန့်ပစ်ပစ္စည်းများ (Wastes) ၊ ဆူညံသံ (Noise) စသည့် ပတ်ဝန်းကျင်ထိခိုက်မှုများအား လျှော့ချခြင်းလုပ်ငန်းစဉ် (Mitigation Measure) များကိုလည်း ဆောင်ရွက်ရမည်ဖြစ်ပါသည်။

၄။ သို့ဖြစ်ပါ၍ ရန်ကုန်တိုင်းဒေသကြီး၊ မှော်ဘီမြို့နယ်၊ မြောင်းတကာ သံမဏိစက်ရုံစက်မှုဇုန်၊ မြေကွက်အမှတ် (၂၅၃/၂၅၄/၂၅၅) ၊ မြေဧရိယာ(၆.၄၇၄)ဧကအနက်မှ (၃.၇၀၀)ဧက (၁၄၉၇၃.၃၈၂ စတုရန်းမီတာ)တွင် စက္ကူပျော့ဖတ်အမျိုးမျိုးထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းအတွက် ပတ်ဝန်းကျင်နှင့်လူမှုဆိုင်ရာများအပေါ် ထိခိုက်သက်ရောက်နိုင်မှုများကို ရှောင်ရှားနိုင်ရန် သို့မဟုတ် အနည်းဆုံးဖြစ်စေရန်အတွက် စီမံကိန်းအဆိုပြုသူဘက်မှ ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာလုပ်ထုံးလုပ်နည်း အပိုဒ် ၄၅၊ ၄၆၊ ၄၇ ၊ ၄၈၊ ၄၉၊ ၅၀၊ ၅၁၊ ၅၂၊ ၅၃၊ ၅၄၊ ၆၂၊ ၆၃ နှင့် ၈၃ ပါသတ်မှတ်ချက်များနှင့်အညီ အောက်ဖော်ပြပါအတိုင်း သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာနသို့ တင်ပြအတည်ပြုချက်ရယူရန် လိုအပ်ပါကြောင်း သဘောထားပြန်ကြားအပ်ပါသည်-

(က) ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်း အပိုဒ် (၄၅) နှင့် (၄၆) တို့အရ စီမံကိန်းအဆိုပြုသူသည် ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း လုပ်ငန်း (Environmental Impact Assessment-EIA) မစတင်မီ အဆိုပါလုပ်ငန်းကို ဆောင်ရွက်မည့် တတိယပုဂ္ဂိုလ် (သို့မဟုတ်) အဖွဲ့အစည်းနှင့်စပ်လျဉ်း၍ သယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန၏ ဆုံးဖြတ်ချက်ရယူရန်၊

(ခ) ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်း အပိုဒ် (၄၇) မှ (၅၄) အထိ ဖော်ပြချက်အရ စီမံကိန်းအဆိုပြုသူသည် နယ်ပယ်အတိုင်းအတာ သတ်မှတ်ခြင်း အစီရင်ခံစာနှင့် ဆောင်ရွက်မည့်လုပ်ငန်းတာဝန်များကို လမ်းညွှန်ချက်များနှင့်အညီ ဆောင်ရွက်သွားမည့် လုပ်ငန်းတစ်ခုချင်းအလိုက် လေ့လာဆန်းစစ်ပြုစု၍

သယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာနသို့ တင်ပြအတည်ပြုချက်ရယူရန်၊

(ဂ) အတည်ပြုပြီးသော နယ်ပယ်အတိုင်းအတာ သတ်မှတ်ခြင်း အစီရင်ခံစာပါအချက်များအပေါ် အခြေခံ၍ ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်း အပိုဒ် ၆၂၊ ၆၃ ပါ အချက်များနှင့်အညီ ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း အစီရင်ခံစာ (EIA) ကို ဆောင်ရွက်ပြီး သယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာနသို့ ရေးဆွဲတင်ပြ အတည်ပြုချက်ရယူရန်။

ပြည်ထောင်စုဝန်ကြီး (ကိုယ်စား)
( ခင်မောင်ရီ ၊ အမြဲတမ်းအတွင်းဝန် )

မိတ္တူကို

ညွှန်ကြားရေးမှူးချုပ်
သစ်တောဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်
ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန

## ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
## စက်မှုဝန်ကြီးဌာန

စာအမှတ်၊ ၁၅- စမ(၂) ၂၀၁၈-၂၀၁၉(၁၁၃၃)
ရက်စွဲ၊ ၂၀၁၉ ခုနှစ်၊ ဇန်နဝါရီလ ၉ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **သဘောထားမှတ်ချက် ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၄.၁၂.၂၀၁၈ ရက်စွဲပါ စာအမှတ်၊ မရက - ၃ / ခ - ၀၃၁ / ၂၀၁၈ ( ၂၀၃ )

၁။ Asia Glory International Company Limited မှ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် ရန်ကုန်တိုင်းဒေသကြီး၊ မှော်ဘီမြို့နယ်၊ မြောင်းတကာသံမဏိစက်မှုဇုန်၊ မြေကွက်အမှတ် ( ၂၅၃၊ ၂၅၄၊ ၂၅၅ )ရှိ မြေဧရိယာ ( ၆.၄၇၄ )ဧကအနက် ( ၃.၇၀၀ )ဧကတွင် စက္ကူပျော့ဖတ်အမျိုးမျိုးထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက်ပါ လုပ်ငန်းဆောင်ရွက်ခြင်းအတွက် အသုံးပြုမည့်စက်ပစ္စည်းများနှင့် ရေဆိုးသန့်စင်ခြင်း ( Waste Water Treatment ) အတွက် အသုံးပြုမည့်စက်ပစ္စည်းများသည် လုပ်ငန်းနှင့်သင့်လျော်မှုရှိ/မရှိနှင့် လုပ်ငန်းဆောင်ရွက်ခွင့်ပြုရန် သင့်/မသင့် စသည့်အချက်များအပေါ် စက်မှုဝန်ကြီးဌာနမှ ၂၈.၁၂.၂၀၁၈ ရက်နေ့အတွင်း သဘောထားမှတ်ချက် ပြန်ကြားပေးနိုင်ပါရန် ရည်ညွှန်းပါစာဖြင့် ညှိနှိုင်းခဲ့ပါသည်။

၂။ အဆိုပါ ကုမ္ပဏီမှ ဆောင်ရွက်မည့် လုပ်ငန်းများနှင့်ပတ်သက်၍ အောက်ပါအတိုင်း စိစစ်တွေ့ရှိရပါသည်-

(က) ကုမ္ပဏီမှစက်ရုံအတွက် လိုအပ်သော ဓာတုပစ္စည်းများအား ပြည်တွင်းသို့ တင်သွင်းခြင်း၊ အသုံးပြုခြင်း၊ သယ်ယူပို့ဆောင်ခြင်း၊ သိုလှောင်ခြင်း၊ လက်ဝယ်ထားရှိခြင်းစသည့် လုပ်ငန်းများဆောင်ရွက်မည်ဖြစ်ပါသဖြင့် ဓာတုပစ္စည်းနှင့်ဆက်စပ်ပစ္စည်းများအန္တရာယ်မှ တားဆီးကာကွယ်ရေးဗဟိုကြီးကြပ်ရေးအဖွဲ့သို့ " ဓာတုပစ္စည်းနှင့် ဆက်စပ်ပစ္စည်းများအန္တရာယ်မှ တားဆီးကာကွယ်ရေးဥပဒေ " ပုဒ်မ ၁၃ အရ လုပ်ငန်းလိုင်စင်လျှောက်ထားရမည်ဖြစ်ပြီး " ဓာတုပစ္စည်း နှင့် ဆက်စပ်ပစ္စည်းများ အန္တရာယ်မှ တားဆီးကာကွယ်ရေးဥပဒေ" ပုဒ်မ ၂၀ အရ မိမိလုပ်ငန်းတွင် အသုံးပြုမည့် ဓာတုပစ္စည်းများကို မှတ်ပုံတင်ရန် မှတ်ပုံတင်လက်မှတ်လျှောက်ထားရမည် ဖြစ်ပါသည်။

(ခ) ရေသန့်စင်မှုစနစ်၊ စက္ကူပျော့ဖတ်ထုတ်လုပ်မှုနှင့် စွန့်ပစ်ရည်သန့်စင်မှုအပိုင်းတွင် အသုံးပြုမည့် ဓာတုကုန်ကြမ်းပစ္စည်းများကိုလည်း ပြည့်စုံစွာဖော်ပြသင့်ပါသည်။

(ဂ) ထွက်ရှိလာသော ကုန်ချောပစ္စည်းအတွက် စံသတ်မှတ်ချက်များနှင့် အမျိုးအစားများကိုလည်း ပြည့်စုံစွာဖော်ပြသင့်ပါသည်။

(ဃ) ယခုလုပ်ငန်းရှင်မှ MIC သို့ ခွင့်ပြုရန်တင်ပြထားသည့် လုပ်ငန်းသုံးစက်ပစ္စည်းမှာ ပျော့ဖတ်လုပ်ငန်းနှင့် စွန့်ပစ်ရေသန့်စင်ခြင်းများနှင့် ဆက်စပ်မှုရှိပါကြောင်း စိစစ်တွေ့ရှိရပါသည်။

(င) အသုံးပြုမည့် ဓာတုကုန်ကြမ်းအမျိုးအစားများကို ပြည့်စုံစွာဖော်ပြရန် လိုအပ်ပြီး ရေသန့်စင်မှုစနစ်တွင် အသုံးပြုမည့် ဓာတုကုန်ကြမ်းပစ္စည်းများ၊ စက္ကူပျော့ဖတ်ထုတ်လုပ်မှုတွင် အသုံးပြုမည့် ဓာတုကုန်ကြမ်းပစ္စည်းများ( ဥပမာအားဖြင့် $Na_2SiO_3$ , NaOH, $H_2O_2$, NaHS, Chelating Agent စသည့်) စွန့်ပစ်ရေသန့်စင်မှုအပိုင်းတွင် အသုံးပြုမည့် ဓာတုကုန်ကြမ်းပစ္စည်းများစသည်ဖြင့် ပြည့်စုံစွာဖော်ပြသင့်ပါသည်။ အဆိုပါ ဓာတုကုန်ကြမ်းပစ္စည်းများကို တင်သွင်းမည့် အစီအစဉ်၊ သုံးစွဲမည့်စံနှုန်းနှင့် လိုအပ်ချက်တို့ကို ပြည့်စုံစွာဖော်ပြပေးရန် လိုအပ်ပါသည်။

(စ) အဆိုပြုတင်ပြချက်တွင် ပထမ(၅)နှစ်၌ တစ်နှစ်လျှင် ( ၆၅,၀၀၀ )တန် ထုတ်လုပ်ပြီး (၆)နှစ်မြောက်ကာလမှစ၍ (၁)နှစ်လျှင် ကုန်ချော ( ၈၀,၀၀၀ )တန် ထုတ်လုပ်မည်ဟူ၍ ဖော်ပြထားရာ ထိုသို့ထုတ်လုပ်မှုကို တိုးမြှင့်ထုတ်လုပ်သော်လည်း လျှပ်စစ်ဓာတ်အားလိုအပ်ချက်ကို ပြောင်းလဲခြင်းမရှိ တစ်သမတ်တည်းဖော်ပြထားခြင်း၊ အပြင်ရေ၊ လောင်စာ၊ ကုန်ကြမ်း၊ ဓာတုကုန် ကြမ်းစသည့် သွင်းအားစုများအားလုံး လိုအပ်ချက်ကို ပြည့်စုံစွာ တွက်ချက်ဖော်ပြထားခြင်း မရှိသည့်အတွက် ကဏ္ဍတစ်ခုနှင့်တစ်ခု ချိတ်ဆက်မှုရှိစွာဖြင့် တွက်ချက်ဖော်ပြရန် လိုအပ်ပါသည်။

(ဆ) Recycle Paper များကို ပြန်လည်ဖျော်ကာ မှင်ချွတ်ခြင်း ( Deinking) ပြုလုပ်၍ အခြောက်ခံကာ ထုတ်လုပ်သောနည်းစဉ်တွင် Deinking Process သည် အဓိကကျပြီး Wash Deinking , Flotating Deinking နှင့် Enzymatic Deinking ဟူ၍ Deinking Process များ ရှိရာတွင် ၂၀%နှင့် အထက် ပျော့ဖတ် (Fibre) ကို ပြန်လည်ဆယ်တင်နိုင်ပြီး စီးပွားရေးတွက်ချေကိုက်မှုနှင့် ပတ်ဝန်းကျင်ထိခိုက်မှုမဖြစ်စေသည့် နည်းပညာဖြစ်ရန် လိုအပ်ပါသည်။

(ဇ) အဆိုပြုတင်ပြချက်တွင် စွန့်ပစ်ရည်သန့်စင်မှုစနစ်ကို ဖော်ပြထားသော်လည်း ထိုစနစ်မှ ထွက်ရှိလာမည့် အမိုးနီးယားဓာတ်ငွေ့၊ အစိုင်အခဲတို့ကို မည်သို့စီမံမည်ကို ထည့်သွင်းဖော်ပြသင့်ပါသည်။

၃။ သို့ပါ၍ Asia Glory International Company Limited မှ အဆိုပြုချက်ပါ လုပ်ငန်းဆောင်ရွက် ခြင်းအတွက် အသုံးပြုမည့်စက်ပစ္စည်းများနှင့် ရေဆိုးသန့်စင်ခြင်း ( Waste Water Treatment ) အတွက် အသုံးပြုမည့် စက်ပစ္စည်းများသည် လုပ်ငန်းနှင့်သင့်လျော်မှု ရှိပါကြောင်းနှင့် အထက်ပါလိုအပ်ချက်များ ဖြည့်ဆည်းဆောင်ရွက်မည်ဆိုပါက ဤဝန်ကြီးဌာန အနေဖြင့် **ကန့်ကွက်ရန်မရှိကြောင်း** ပြန်ကြားအပ်ပါသည်။

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
(တင်ဦး၊ ဒုတိယအမြဲတမ်းအတွင်းဝန်)

မိတ္တူကို

စက်မှုပူးပေါင်းဆောင်ရွက်ရေးဦးစီးဌာန
စက်မှုကြီးကြပ်ရေးနှင့်စစ်ဆေးရေးဦးစီးဌာန
အမှတ်( ၃ )အကြီးစားစက်မှုလုပ်ငန်း
မျှောစာတွဲ
ရုံးလက်ခံ

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အတွင်း

# မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေအရ

## စက္ကူပျော့ဖတ် အမျိုးမျိုး ထုတ်လုပ်

## ရောင်းချခြင်း လုပ်ငန်းအတွက်

## ရင်းနှီးမြှုပ်နှံလိုသူ၏ လုပ်ငန်းအဆိုပြုချက်

**ASIA GLORY INTERNATIONAL CO.,LTD**

# ပူးတွဲပါစာရွက်စာတမ်းများ

| စဉ် | ပုံစံ (၂) တွင်ရှိသော အမှတ်စဉ်များ | ပူးတွဲတင်ပြသောစာရွက်များ |
|---|---|---|
| | | (၁) အပေါ်စာ<br>(၂) အဆိုပြုချက် ပုံစံ (၂) |
| ၁။ | အမှတ်စဉ် - ၁ | (၁) ကုမ္ပဏီမှတ်ပုံတင်ကဒ်မိတ္တူ<br>(၂) ဒါရိုက်တာများ၏ passport နှင့် မှတ်ပုံတင်မိတ္တူ<br>(၃) အစည်းအဝေးမှတ်တမ်း |
| ၂။ | အမှတ်စဉ် - ၄ | (၁) လုပ်ငန်းအစီအစဉ် |
| ၃။ | အမှတ်စဉ် - ၅ ၊ ၆ နှင့် ၇ | (၁) ကုမ္ပဏီဖွဲ့စည်းပုံဇယား<br>(၂) မတည်ရင်းနှီးငွေ နှင့် ရှယ်ယာပိုင်ဆိုင်မှုအချိုးများ<br>(၃) ဒါရိုက်တာများစာရင်း<br>(၄) MyCo PrintOut |
| ၄။ | အမှတ်စဉ် - ၈ | (၁) မတည်ငွေနှင့်ရင်းနှီးမြှုပ်နှံမှုစာရင်း<br>(၂) နိုင်ငံခြားမှတင်သွင်းလာမည့်စက်ပစ္စည်းစာရင်း<br>(၃) နိုင်ငံခြားမှတင်သွင်းလာမည့် ကုန်ကြမ်းပစ္စည်းစာရင်း<br>(၄) နိုင်ငံခြားမှ တင်သွင်းလာမည့်ဆောက်လုပ်ရေးသုံး ပစ္စည်းစာရင်း<br>(၅) ပြည်တွင်းတွင် ဝယ်ယူမည့် ပရိဘောဂနှင့် ရုံးသုံး ပစ္စည်းစာရင်း |
| ၅။ | အမှတ်စဉ် - ၁၂ | (၁) မြေငှားရမ်းခြင်း သဘောတူစာချုပ်မူကြမ်း<br>(၂) မြေပိုင်ဆိုင်မှုနှင့်ပတ်သတ်သော အထောက်အထားများ<br>(၃) စက်ရုံ၏ Layout Plan |
| ၆။ | အမှတ်စဉ် - ၁၃ | (၁) Bank Statement |

| | | |
|---|---|---|
| ၇။ | အမှတ်စဉ် - ၁၄ | (၁) ဝန်ထမ်းများစာရင်း<br>(၂) လုပ်သားများ၏ လူမှုဖူလုံရေး၊ သက်သာချောင်ချိမှု ဆောင်ရွက်မည့် အစီအမံများ<br>(၃) ဝင်ငွေခွန် ထမ်းဆောင်မည်ဖြစ်ကြောင်း ဝန်ခံချက်<br>(၄) မီးဘေးလုံခြုံရေး ကြိုတင် ကာကွယ်ရေးစီမံချက်<br>(၅) ပတ်ဝန်းကျင် ထိခိုက်မှု ဆန်းစစ်ခြင်း ပြုလုပ်မည့် အစီအမံများ<br>(၆) နှစ်စဉ် လျှပ်စစ်ဓာတ်အား လိုအပ်ချက်<br>(၇) နှစ်စဉ် ရေလိုအပ်ချက် |
| ၈။ | အမှတ်စဉ် - ၁၅ | အခွန်ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့် လျှောက်ထားလွှာ (ပုံစံ ၆) |

博亚国际纸业有限公司
**ASIA GLORY INTERNATIONAL CO.,LTD**
Mobile : +95 9 97 888 9885
E-mail : kyawsoelwin@yahoo.com
Address : Plot 253,254, Yadanar Road, Myaungtagar Industrial Zone,
Mawbi Township, Yangon, Myanmar.

---

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရန်ကုန်မြို့

ရက်စွဲ ၊ ၂၀၁၈ ခုနှစ် ၊ နိုဝင်ဘာ လ ၊ ရက်။

အကြောင်းအရာ။ ။Asia Glory International Company Limited မှ အဆိုပြုချက် တင်ပြခြင်း။

ကျွန်တော်များ Asia Glory International Company Limited မှ ရန်ကုန်တိုင်းဒေသကြီး ၊ မှော်ဘီမြို့နယ် ၊ မြောင်းတကာစက်မှုဇုန် ၊ ရတနာလမ်း ၊ အမှတ် ၂၅၃/၂၅၄/၂၅၅ တွင်တည်ရှိသော မြေဧရိယာ (၆.၄၇၄) အနက်မှ ဧရိယာ (၄.၄၇) ဧက အကျယ်အဝန်းကိုသာလျှင် မြေပိုင်ရှင် ဦးတင်ဝင်း နှင့် ဦးမောင်မြင့် တို့ထံမှ ငှားရမ်း၍ စက္ကူပျော့ဖတ်ထုတ်လုပ်သည့် စက်ရုံတည်ဆောက်၍ စက္ကူပျော့ဖတ်ထုတ်လုပ်ခြင်း လုပ်ငန်းလုပ်ကိုင်ဆောင်ရွက် မည်ဖြစ်ပါသည်။

သို့ဖြစ်ပါ၍ ကျွန်တော်များ ကုမ္ပဏီအနေဖြင့် မိမိတို့ ကုမ္ပဏီရည်ရွယ်ချက်ပါ လုပ်ငန်းများကို ရင်းနှီးမြှုပ်နှံမှု ခွင့်ပြုမိန့်ဖြင့် ဆောင်ရွက်နိုင်ရန်အလို့ငှါ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုမိန့် ရရှိနိုင်ရန် တင်ပြလျှောက်ထားအပ်ပါသည်။

လေးစားစွာဖြင့်

ဦး ကျော်လာ

Kyaw Lar
Director
Asia Glory International Co., Ltd.

# အဆိုပြုချက်

သို့

ဉက္ကဋ္ဌ

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ် ၊

ရက်စွဲ ၊ ၂၀၁၈ ခုနှစ် ၊ နိုဝင်ဘာ လ၊ ရက်

ကျွန်တော်/ကျွန်မသည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ ၃၆ နှင့်အညီ ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အတွင်း ရင်းနှီးမြှုပ်နှံမှုပြုလုပ်လိုပါသဖြင့် ခွင့်ပြုပါရန် အောက်ပါအချက်အလက်များကိုဖော်ပြ၍ လျှောက်ထားအပ်ပါသည် -

၁။ ရင်းနှီးမြှုပ်နှံသူ၏ -

(က) အမည် Mr. Shu Zhong Bo

(ခ) အဖအမည်

(ဂ) နိုင်ငံသားစိစစ်ရေးကတ်အမှတ်/
နိုင်ငံကူးလက်မှတ်အမှတ် E92871748

(ဃ) နိုင်ငံသား တရုတ်

(င) နေရပ်လိပ်စာ

(၁) ပြည်တွင်း အမှတ် ၁၅ ၊ ၂ စီ ၊ နဝဒေးအိမ်ရာ ၊ လှိုင်သာယာမြို့နယ် ၊ ရန်ကုန်တိုင်းဒေသကြီး ၊ မြန်မာ ။

(၂) ပြည်ပ House No(502), Building No (19), 2727 Qilianshan S Rd, Putuo Qu, Shanghai Shi, China, 200333.

(စ) တယ်လီဖုန်း/ဖက်စ် +၉၅၉ ၉၇၈၈၈၉၈၈၅

(ဆ) အီးမေးလ်လိပ်စာ

(ဇ) ပင်မကုမ္ပဏီအမည် Asia Glory International Company Limited

(ဈ) ပင်မကုမ္ပဏီတည်ရှိရာလိပ်စာ အမှတ် ၂၅၃၊၂၅၄၊၂၅၅ ၊ ရတနာလမ်း ၊ မြောင်းတကာစက်မှုဇုန်၊ မှော်ဘီမြို့နယ် ၊ ရန်ကုန်တိုင်းဒေသကြီး ၊ မြန်မာ ။

(ည) လုပ်ငန်းအမျိုးအစား စက္ကူပျော့ဖတ်အမျိုးမျိုး ထုတ်လုပ်ရောင်းချ ခြင်းလုပ်ငန်း။

၂။ ဖက်စပ်ပြုလုပ်၍ ရင်းနှီးမြှုပ်နှံလိုပါကရင်းနှီးမြှုပ်နှံသူနှင့် ဖက်စပ်ပြုလုပ်မည့်သူများ၏ -

(က) အမည် ............................................................

(ခ) အဖအမည် ............................................................

(ဂ) နိုင်ငံသားစိစစ်ရေးကတ်အမှတ်/ ............................................................

နိုင်ငံကူးလက်မှတ်အမှတ် ............................................................

(ဃ) နိုင်ငံသား ............................................................

(င) နေရပ်လိပ်စာ ............................................................

(၁) ပြည်တွင်း ............................................................

(၂) ပြည်ပ ............................................................

(စ) ပင်မကုမ္ပဏီအမည် ............................................................

(ဆ) ပင်မကုမ္ပဏီတည်ရှိရာလိပ်စာ ............................................................

မှတ်ချက်။ အထက်အပိုဒ် ၁၊ ၂ တို့နှင့် စပ်လျဉ်း၍ အောက်ပါအချက်များကို ပူးတွဲတင်ပြရန် -

(၁) ကုမ္ပဏီမှတ်ပုံတင်အထောက်အထားများ (မိတ္တူ)

(၂) နိုင်ငံသားစိစစ်ရေးကတ်အမှတ် (မိတ္တူ) နှင့် နိုင်ငံကူးလက်မှတ် (မိတ္တူ)

(၃) အဆိုပြုလုပ်ငန်းတွင် ပါဝင်လိုသူများ၏ လုပ်ငန်းပိုင်းနှင့် ငွေရေးကြေးရေး ဆိုင်ရာအထောက်အထားများ

၃။ ရင်းနှီးမြှုပ်နှံသူကိုယ်တိုင် လျှောက်ထားခြင်းမဟုတ်ပါကလျှောက်ထားသူ၏ -

(က) အမည် ဦးကျော်လာ

(ခ) ဆက်သွယ်ရမည့်ပုဂ္ဂိုလ်အမည် ............................................................

(လျှောက်ထားသူသည် စီးပွားရေးအဖွဲ့အစည်းဖြစ်ပါက)

မှတ်ချက်။ တရားဝင်ကိုယ်စားလှယ်လွှဲစာပူးတွဲတင်ပြရန်

(ဂ) နိုင်ငံသားစိစစ်ရေးကတ်အမှတ်/နိုင်ငံကူးလက်မှတ်အမှတ် ၁၃ / တယန (နိုင်) ၀၂၁၁၅၄

(ဃ) နိုင်ငံသား မြန်မာ

(င) မြန်မာနိုင်ငံတွင်နေထိုင်သည့် နေရပ်လိပ်စာ ...... အမှတ် မ/၁(၃-စ) ၊ ၆၄လမ်း ၊ ၄၃ လမ်းနှင့် သိပ္ပံလမ်းကြား ၊ မန္တလေးမြို့ ၊ မြန်မာ။

(စ) တယ်လီဖုန်း/ဖက်စ် ...... ၀၉၇၇၇၇၃၅၀၀

(ဆ) အီးမေးလ်လိပ်စာ ......

၄။ ရင်းနှီးမြှုပ်နှံမှုပြုလုပ်လိုသည့် လုပ်ငန်းအမျိုးအစား ...... စက္ကူပျော့ဖတ်အမျိုးမျိုး ထုတ်လုပ်ရောင်းချ ခြင်းလုပ်ငန်း

၅။ ဖွဲ့စည်းမည့်စီးပွားရေးအဖွဲ့အစည်းပုံသဏ္ဍာန်

☐ ရာခိုင်နှုန်းပြည့် ☒ ဖက်စပ်ပြုလုပ်ခြင်း(ဖက်စပ်စာချုပ်မူကြမ်းတင်ပြရန်)

☐ အခြားသဘောတူညီချက်ပုံစံတစ်မျိုးမျိုးဖြင့်ဆောင်ရွက်ခြင်း(စာချုပ်မူကြမ်းတင်ပြရန်)

၆။ အစုရှယ်ယာရှင်များစာရင်း

| စဉ် | အစုရှယ်ယာရှင်အမည် | နိုင်ငံသား | အစုရှယ်ယာပိုင်ဆိုင်မှု % |
|---|---|---|---|
| ၁ | Mr. Shu Zhong Bo | တရုတ် | ၄၃ % |
| ၂ | Mr. Chen Yaxing | တရုတ် | ၁၇ % |
| ၃ | ဦးကျော်လာ | မြန်မာ | ၂၀ % |
| ၄ | ဦးကျောက်ကြီးကြုံ (ခ) ဦးကျော်မြင့် | မြန်မာ | ၂၀ % |

၇။ ကုမ္ပဏီဖွဲ့စည်းခြင်းနှင့်သက်ဆိုင်သောအချက်အလက်များ

(က) ခွင့်ပြုမတည်ငွေရင်း ...... US$ ၄.၅ သန်း

(ခ) အစခုရှယ်ယာအမျိုးအစား ...... သာမန်အစုရှယ်ယာ ၄၅၀,၀၀၀

(ဂ) အစုရှယ်ယာရှင်များကထည့်ဝင်မည့် အစုရှယ်ယာပမာဏ ...... တစ်စုလျှင် ၁၀ USD တန်အစုရှယ်ယာ ၄၅၀,၀၀၀

မှတ်ချက်။ သင်းဖွဲ့မှတ်တမ်း/သင်းဖွဲ့စည်းမျဉ်း သို့မဟုတ် ဖွဲ့စည်းပုံအခြေခံစည်းမျဉ်း ပူးတွဲ တင်ပြရန်

၈။ မတည်ငွေရင်းနှင့်သက်ဆိုင်သည့်အချက်အလက်များ -

| | | US$ |
|---|---|---|
| (က) | ပြည်တွင်းမှထည့်ဝင်မည့် မတည်ငွေရင်း ပမာဏ/ ရာခိုင်နှုန်း | ၂,၆၉၀,၀၀၀ |
| (ခ) | နိုင်ငံခြားမှ ယူဆောင်လာမည့် မတည်ငွေရင်း ပမာဏ/ ရာခိုင်နှုန်း | ၄,၀၃၅,၀၀၀ |
| | စုစုပေါင်း | ၆,၇၂၅,၀၀၀ USD |

(ဂ) အဆိုပြုမတည်ငွေရင်းနှစ်အလိုက်ထည့်ဝင်မည့်အခြေအနေ/ယူဆောင်လာမည့်ကာလ ရင်းနှီးမြှုပ်နှံခွင့် ပါမစ်ရပြီး နှစ်နှစ် အတွင်း

(ဃ) ရင်းနှီးမြှုပ်နှံမှုတန်ဖိုး/ပမာဏ USD ၆.၇၂၅ သန်း

(င) ရင်းနှီးမြှုပ်နှံမှုပြုလုပ်လိုသည့် သက်တမ်း ၅၀ နှစ်

(စ) ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းတည်ဆောက်မှုကာလသို့မဟုတ် ပြင်ဆင်မှုကာလ ၂ နှစ် မှတ်ချက်။ အပိုင်ဒ် ၈(င) နှင့် စပ်လျဉ်း၍ ထူးခြားသည့် အခြေအနေရှိပါက နောက်ဆက်တွဲဖြင့် ဖော်ပြပါရန်

၉။ နိုင်ငံခြားမှ ယူဆောင်တင်သွင်းလာမည့် မတည်ငွေရင်း၏ အသေးစိတ်စာရင်း -

| | | နိုင်ငံခြားငွေ | ညီမျှသည့်ခန့်မှန်းငွေကျပ် |
|---|---|---|---|
| (က) | နိုင်ငံခြားငွေ (အမျိုးအစားနှင့် တန်ဖိုးပမာဏ) | ............................ | ............................ |
| (ခ) | မြေ/အဆောက်အအုံ တန်ဖိုး သို့မဟုတ် ငှားရမ်းခ | ............................ | ............................ |
| (ဂ) | ပရိဘောဂနှင့် လုပ်ငန်းသုံးပစ္စည်းများ တန်ဖိုးပမာဏ (အသေးစိတ်စာရင်းပူးတွဲတင်ပြရန်) | ............................ | ............................ |
| (ဃ) | စက်ပစ္စည်းများ၊စက်ကိရိယာများ စသည့်ပစ္စည်းတို့၏ တန်ဖိုးပမာဏ | ၄,၀၃၅,၀၀၀ | ၆,၀၅၂,၅၀၀,၀၀၀ |
| (င) | ကနဦးကုန်ကြမ်းပစ္စည်းများနှင့် အခြား အလားကူပစ္စည်းများ၏ တန်ဖိုးပမာဏ | ............................ | ............................ |
| (စ) | လိုင်စင်၊ တီထွင်မှုပိုင်ဆိုင်ခွင့်၊ စက်မှုဒီဇိုင်း၊ ကုန်အမှတ်တံဆိပ်၊ မူပိုင်ခွင့် စသည့် အသိဉာဏ် | ............................ | ............................ |

ဆိုင်ရာပစ္စည်းများကိုတန်ဖိုး
ဖြတ်နိုင်သောအခွင့်အရေးများ၏
တန်ဖိုးပမာဏ

| | | |
|---|---|---|
| (ဆ) ကျွမ်းကျင်မှုနည်းပညာရပ်များ၏ တန်ဖိုးပမာဏ | .............................. | .............................. |
| (ဈ) အခြား (ဥပမာ-ဆောက်လုပ်ရေး လုပ်ငန်းသုံးပစ္စည်းများ ) | .............................. | .............................. |
| စုစုပေါင်း | ၄,၀၃၅,၀၀၀ USD | ကျပ်သန်းပေါင်း ၆၀၅၂.၅ |

မှတ်ချက်။ အပိုဒ် ၉ (စ) (ဆ) တို့နှင့် စပ်လျဉ်း၍ အသုံးပြုခွင့်အထောက်အထားများ ပူးတွဲ တင်ပြရန်။

၁၀။ ပြည်တွင်းမှထည့်ဝင်မည့် မတည်ငွေရင်း၏ အသေးစိတ်စာရင်း -

| | USD |
|---|---|
| (က) ငွေပမာဏ | ၈၀၃,၂၈၀ |
| (ခ) စက်ပစ္စည်းကိရိယာများတန်ဖိုးပမာဏ (အသေးစိတ်စာရင်းပူးတွဲတင်ပြရန်) | ၂၄၃,၇၅၄ |
| (ဂ) မြေ/အဆောက်အအုံ တန်ဖိုး သို့မဟုတ် ငှားရမ်းခ | ၂၆,၆၆၆ |
| (ဃ) အဆောက်အအုံဆောက်လုပ်မှုကုန်ကျစရိတ် | ၅၀၀,၀၀၀ |
| (င) ပရိဘောဂနှင့် လုပ်ငန်းသုံးပစ္စည်းများ တန်ဖိုးပမာဏ (အသေးစိတ်စာရင်းပူးတွဲတင်ပြရန်) | ၅၀၀,၀၀၀ |
| (စ) ကနဦးကုန်ကြမ်းပစ္စည်းတန်ဖိုးပမာဏ (အသေးစိတ်စာရင်းပူးတွဲတင်ပြရန်) | .............................. |
| (ဆ) အခြား (ဥပမာ-ဆောက်လုပ်ရေး လုပ်ငန်းသုံးပစ္စည်းများ ) | ၆၁၆,၃၀၀ |
| (ဇ) အခြား | .............................. |
| စုစုပေါင်း | ၂,၆၉၀,၀၀၀ USD |

၁၁။ ချေးငွေနှင့်သက်ဆိုင်သည့် အချက်အလက်များ -

☐ ပြည်တွင်းချေးငွေ ............................................ ကျပ်

☐ ပြည်ပချေးငွေ ............................................ အမေရိကန်ဒေါ်လာ

၁၂။ ဆောင်ရွက်မည့် စီးပွားရေးအဖွဲ့အစည်းများနှင့် သက်ဆိုင်သောအချက်အလက်များ -

(က) ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့်ဒေသ(များ)/တည်နေရာ အမှတ် ၂၅၃၊၂၅၄၊၂၅၅ ၊ ရတနာလမ်း ၊ မြောင်းတကာစက်မှုဇုန် ၊ မှော်ဘီမြို့နယ် ၊ ရန်ကုန်တိုင်းဒေသကြီး ၊ မြန်မာ။

(ခ) မြေ သို့မဟုတ် မြေနှင့်အဆောက်အအုံနေရာအမျိုးအစားနှင့် အကျယ်အဝန်းလိုအပ်ချက်

(၁) တည်နေရာ အမှတ် ၂၅၃၊၂၅၄၊၂၅၅ ၊ ရတနာလမ်း ၊ မြောင်းတကာစက်မှုဇုန် ၊ မှော်ဘီမြို့နယ် ၊ ရန်ကုန်တိုင်းဒေသကြီး ၊ မြန်မာ။

(၂) မြေ/အဆောက်အအုံအကျယ်အဝန်း၊အရေအတွက် ၆.၄၇၄ဧကအနက်မှ၄.၄၇ဧက

(၃) လက်ရှိပိုင်ဆိုင်သူ (၁) ဦးတင်ဝင်း (၂) ဦးမောင်မြင့်

(ကက) အမည်/ကုမ္ပဏီအမည်/ဌာန ............

(ခခ) နိုင်ငံသားစိစစ်ရေးကတ်အမှတ် (၁) ၁၂/အလန(နိုင်)၀၁၆၅၆၄

(၂) ၁၂/ဥကမ(နိုင်)၁၃၇၃၈၄

(ဂဂ) နေရပ်လိပ်စာ (၁) အမှတ် ၁၉၊ဆင်မင်းလမ်း၊အလုံမြို့နယ်၊ရန်ကုန်။

(၂) အမှတ် ၂၇၊ဆင်ရေတွင်းလမ်း၊အလုံမြို့နယ်၊ရန်ကုန်။

(၄) မြေအမျိုးအစား စက်မှုဇုန်

(၅) မြေငှားဂရမ် ခွင့်ပြုကာလ ............

(၆) ငှားရမ်းမည့်ကာလ ၂၀၁၉ မှ ၂၀၃၉ ထိ ( ၂၀ )နှစ်

(၇) ငှားရမ်းခနှုန်းထား တစ်နှစ်ကို ကျပ် ၄၀,၀၀၀,၀၀၀

(ကက) မြေ ၆.၄၇၄ ဧက အနက်မှ ၄.၄၇ ဧက

(ခခ) အဆောက်အအုံ ............

(၈) ရပ်ကွက် ............

(၉) မြို့နယ် မှော်ဘီမြို့နယ်

(၁၀) ပြည်နယ်/တိုင်းဒေသကြီး ရန်ကုန်

(၁၁) ငှားရမ်းမည့်ပုဂ္ဂိုလ် Mr. Shu Zhong Bo

(ကက) အမည်/ကုမ္ပဏီအမည်/ဌာန Asia Glory International Co.,Ltd.

(ခခ) အဖအမည် ............

(ဂဂ) နိုင်ငံသား တရုတ်

(ဃဃ) နိုင်ငံကူးလက်မှတ်အမှတ်/ E92871742

နိုင်ငံသားစိစစ်ရေးကတ်အမှတ် ............

(cc) နေရပ်လိပ်စာ အမှတ် ၂၅၃၊၂၅၄၊၂၅၅ ၊ ရတနာလမ်း ၊ မြောင်းတကာစက်မှုဇုန် ၊ မှော်ဘီမြို့နယ် ၊ ရန်ကုန်တိုင်းဒေသကြီး ၊ မြန်မာ။

(ဂ) ဆောက်လုပ်မည့်အဆောက်အအုံလိုအပ်ချက်

(၁) အဆောက်အအုံအမျိုးအစား/အရေအတွက် ..........

(၂) အကျယ်အဝန်း ..........

(ဃ) နှစ်စဉ်ထုတ်လုပ်မည့် ကုန်ပစ္စည်း/ဝန်ဆောင်မှု ..........

(င) နှစ်စဉ် လျှပ်စစ်ဓါတ်အားလိုအပ်ချက် ..........

(စ) နှစ်စဉ်ရေလိုအပ်ချက် ..........

မှတ်ချက်။ အပိုဒ် ၁၂(ခ)နှင့်စပ်လျဉ်း၍အောက်ပါအချက်များပူးတွဲတင်ပြရန် -

(၁) မြေပိုင်ဆိုင်မှု/မြေဂရန်အထောက်အထား(စက်မှုဇုန်မှ အပ)နှင့်မြေပုံ

(၂) မြေငှားစာချုပ်(မူကြမ်း)

၁၃။ ငွေကြေးပိုင်ဆိုင်မှုနှင့် ပတ်သတ်၍ အသေးစိတ်ဖော်ပြချက် -

(က) အမည်/ကုမ္ပဏီအမည် Asia Glory International Co.,Ltd.

(ခ) နိုင်ငံသားစိစစ်ရေးကတ်အမှတ်/ နိုင်ငံကူးလက်မှတ်အမှတ် ကုမ္ပဏီမှတ်ပုံတင်အမှတ် ၁၀၆၂၃၇၂၇၁

(ဂ) ဘဏ်စာရင်းအမှတ် KBZ ဘဏ် - ၀၆၄၅၀၃၂၀၆၀၁၈၉၀၀၀၁

(မိခင်နိုင်ငံရှိဘဏ်ထောက်ခံချက် သို့မဟုတ် မိခင်ကုမ္ပဏီ၏ စာရင်းစစ်ပြီးသည့် နှစ်ချုပ်စာရင်းပူးတွဲတင်ပြရန်)

၁၄။ ဆောင်ရွက်မည့် စီးပွားရေးအဖွဲ့အစည်းတွင် လိုအပ်မည့် ဝန်ထမ်းများစာရင်း

| စဉ် | အဆင့်အတန်း | မြန်မာနိုင်ငံသား | နိုင်ငံခြားသား | စုစုပေါင်း |
|---|---|---|---|---|
| (က) | အကြီးတန်းစီမံခန့်ခွဲမှု (မန်နေဂျာများ၊အဆင့်မြင့်အရာရှိများ) | ၅ | ၃ | ၈ |
| (ခ) | အခြားအဆင့်စီမံခန့်ခွဲမှု (အကြီးတန်းစီမံခန့်ခွဲမှုမှအပ) | ၅ | ၂ | ၇ |
| (ဂ) | သက်မွေးဝမ်းကျောင်းပညာရှင်များ | | | |
| (ဃ) | နည်းပညာနှင့်ဆက်စပ်သည့်သက်မွေးပညာရှင် | ၃ | ၁၀ | ၁၃ |
| (င) | အကြံပေး | | | |
| (စ) | ကျွမ်းကျင်လုပ်သား | ၂၃ | | ၂၃ |
| (ဆ) | အခြေခံလုပ်သား | ၂၇ | | ၂၇ |
| စုစုပေါင်း | | ၆၃ | ၁၅ | ၇၈ |

မှတ်ချက်။ အောက်ဖော်ပြပါ ဖော်ပြချက်များပူးတွဲဖော်ပြရန်

(၁) လုပ်သားများ၏ လူမှုဖူလုံရေး၊သက်သာချောင်ချိမှုဆောင်ရွက်မည့်အစီအမံများ

